

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

# ခွင့် ပြု မိန့်




ခွင့်ပြုမိန့် အမှတ်၊ မနသ ......၇၄၀............../၂၀၁၀ ။ ၂၀၁၀ ခုနှစ်၊ မတ် လ ၁၁ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ...... ဦးရှင်စင် (ခ) မေဖုဂမ် ......

(ခ) အဘ အမည် ...... ဦးတေယု ......

(ဂ) နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ် ၁၃ /ကခန(နိုင်) ၀၃၀၁၈၂

(ဃ) နေရပ်လိပ်စာ ...... အမှတ် (၅၅)၊ (၆၈) လမ်းနှင့် (၆၉) လမ်း၊ (၃၃)လမ်းနှင့် (၃၄) လမ်းကြား၊ ချမ်းအေးသာဇံမြို့နယ်၊ မန္တလေးတိုင်း။

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း ...... ငွေကမ္ဘာကျော် သတ္တုတူးဖော်ရေး ကုမ္ပဏီ လီမိတက် (Ngwe Kabar Kyaw Mining Co., Ltd.)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား ...... ဆီလီကွန် သတ္တုကုန်ကြမ်းများ ထုတ်လုပ်ခြင်း လုပ်ငန်း ......

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ (များ) ရှမ်းပြည်နယ် (မြောက်ပိုင်း)၊ မူဆယ်ခရိုင်၊ နမ့်ခမ်းမြို့နယ်၊ မန်စပ်ကျေးရွာ၊ ကွင်းပြင်ပ၊ ဦးပိုင်အမှတ်၊ N - ၁။

(ဇ) မတည်ငွေရင်းပမာဏ (ကျပ်) ...... ၂၂၀၀.၀၀ (သန်း) (ကျပ်သန်းပေါင်းနှစ်ထောင့်နှစ်ရာ)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
အမိန့်ကြော်ငြာစာအမှတ်၊ ၅၈ / ၂၀၁၀ (မနသ)
နေပြည်တော်၊ ၁၃၇၁ ခုနှစ်၊ တပေါင်းလပြည့်ကျော် ၁၂ ရက်
(၂၀၁၀ ခုနှစ် ၊ မတ် လ ၁၁ရက်)

၁။ မြန်မာကုမ္ပဏီ ဖြစ်သော ငွေကမ္ဘာကျော် သတ္တုတူးဖော်ရေး ကုမ္ပဏီလီမိတက် (Ngwe Kabar Kyaw Mining Co., Ltd.) မှ ကုမ္ပဏီ အမည်ဖြင့် ရှမ်းပြည်နယ် မြောက်ပိုင်း အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေး ကောင်စီထံမှ အသုံးပြုခွင့် ရရှိထားသော ရှမ်းပြည်နယ် (မြောက်ပိုင်း)၊ မူဆယ် ခရိုင်၊ နမ့်ခမ်း မြို့နယ်၊ မန်စပ် ကျေးရွာ၊ ကွင်းပြင်ပ၊ ဦးပိုင်အမှတ်၊ N-၁ ရှိ လန-၃၉ မြေ (၅၀)ဧက တွင် စက်ရုံတည်ဆောက်၍ ဆီလီကွန်သတ္တု ကုန်ချောများ ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့် အညီ ဆောင်ရွက်ခွင့် အဆိုပြု တင်ပြချက်အား (၈-၁၂-၂၀၀၉)နေ့ တွင်ကျင်းပ သော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၄၃ / ၂၀၀၉) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ ကော်မရှင်မှ စိစစ်ခဲ့ပြီး (၂၀-၁-၂၀၁၀)နေ့တွင် ကျင်းပသော ကုန်သွယ်မှု မူဝါဒကောင်စီ၏ ( ၃/ ၂၀၁၀) အစည်းအဝေး သို့ ဆက်လက် တင်ပြခဲ့ ပါသည်။ အဆိုပါ အစည်းအဝေး သဘောတူညီချက်အရ(၂၆-၂-၂၀၁၀) နေ့တွင် ကျင်းပသော ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့၏ (၈/ ၂၀၁၀)အစည်းအဝေးသို့ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် ငွေကမ္ဘာကျော် သတ္တုတူးဖော်ရေး ကုမ္ပဏီလီမိတက် (Ngwe Kabar Kyaw Mining Co., Ltd.)အား ဆီလီကွန်သတ္တု ကုန်ချောများ ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်နိုင်ရန် အတွက် ခွင့်ပြုမိန့်အမှတ်၊ မနသ- ၇၄၀/ ၂၀၁၀ ကို ထုတ်ပေးလိုက် သည်။

၂။ ငွေကမ္ဘာကျော် သတ္တုတူးဖော်ရေး ကုမ္ပဏီလီမိတက် (Ngwe Kabar Kyaw Mining Co., Ltd.)အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်းဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ထုတ်လုပ်မှု လုပ်ငန်း စီးပွားဖြစ် စတင်သော နှစ် အပါအဝင် တစ်ဆက်တည်း(၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် ဥပဒေပုဒ်မ ၁၃ ပါ ပြဋ္ဌာန်းချက်များနှင့်အညီ အောက်ဖော်ပြပါ အခွန် ကင်းလွတ်ခွင့် နှင့် သက်သာခွင့် များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၁၃(ဂ) အရ ထုတ်လုပ်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့် နှုန်းအထိ ပြည်တွင်း ပြည်ပ ဝင်ငွေတိုးတက်မှု ရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီးသည့်

အခါ လုပ်ငန်း အကောင်အထည်ဖော် ဆောင်ရွက်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ ၁၃(စ) အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့်ရံပုံငွေ ထား၍ တစ်နှစ် အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့်အခါ လုပ်ငန်းအမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၁၃(ဆ) အရ လုပ်ငန်းသုံး မတည်ပစ္စည်းများအပေါ် တန်ဖိုးလျော့ငွေကို သတ်မှတ်သည့်နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၃။ ငွေကမ္ဘာကျော် သတ္တုတူးဖော်ရေး ကုမ္ပဏီလီမိတက် (Ngwe Kabar Kyaw Mining Co., Ltd.) သည် ဤခွင့်ပြုမိန့် အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြ ထားသည့် ထုတ်လုပ်မှု ရည်မှန်းချက်များ ကို အနိမ့်ဆုံး ရည်မှန်းချက်များ အဖြစ် ထားရှိ ဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၄။ ငွေကမ္ဘာကျော် သတ္တုတူးဖော်ရေး ကုမ္ပဏီလီမိတက် (Ngwe Kabar Kyaw Mining Co., Ltd.) သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြား ပြုစုထားရှိရမည်။

၅။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှု နှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာ နှင့် ပတ်သက်၍ သတ်မှတ် ပြဋ္ဌာန်းသည့် စည်းကမ်းချက်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။

၆။ ငွေကမ္ဘာကျော် သတ္တုတူးဖော်ရေး ကုမ္ပဏီလီမိတက် (Ngwe Kabar Kyaw Mining Co., Ltd.) သည် လျှပ်စစ်ဓါတ်အား ရယူမှု၊ ကုန်ကြမ်း ရယူမှု၊ ထုတ်လုပ်မှု နည်းပညာ လုပ်ငန်းစဉ်၊ ထုတ်လုပ်မှု အရည်အသွေး၊ ဈေးကွက်ပိုင်း ဆိုင်ရာတို့နှင့် စပ်လျဉ်း၍ အဆိုပြုချက်တွင် တင်ပြထားသည့်အတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရမည်။

၇။ ငွေကမ္ဘာကျော် သတ္တုတူးဖော်ရေး ကုမ္ပဏီလီမိတက် (Ngwe Kabar Kyaw Mining Co., Ltd.) သည် ဆီလီကွန်သတ္တု ကုန်ချောများ ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်နှင့် စပ်လျဉ်း၍ သက်ဆိုင်ရာဌာနများမှ အခါအားလျော်စွာ ထုတ်ပြန်သည့် အမိန့်နှင့် ညွှန်ကြားချက်များကို လိုက်နာရမည်။

၈။ ငွေကမ္ဘာကျော် သတ္တုတူးဖော်ရေး ကုမ္ပဏီလီမိတက် (Ngwe Kabar Kyaw Mining Co., Ltd.) မှ နိုင်ငံခြားသား ကျွမ်းကျင်သူများငှားရမ်းခွင့် ကိစ္စနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ဆိုင်ရာ လုပ်ထုံးလုပ်နည်းများ အခန်း(၉)၊ အပိုဒ် ၃၃ပါ သတ်မှတ်ချက်များနှင့် အညီ ဤကော်မရှင်သို့ သီးခြား တင်ပြလျှောက်ထား ရမည်။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန် အတွက် ပြည်တွင်း အလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမားဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေးဦးစီးဌာနနှင့် ညှိနှိုင်းဆောင်ရွက်ရမည်။ လုပ်ငန်းခွင်သာယာရေးအတွက် အဆိုပြုချက် တွင် တင်ပြ ထားသည့် အတိုင်း စီစဥ် ဆောင်ရွက်ရမည်။

၉။ ငွေကမ္ဘာကျော် သတ္တုတူးဖော်ရေး ကုမ္ပဏီလီမိတက် (Ngwe Kabar Kyaw Mining Co., Ltd.)သည် ဤခွင့်ပြုမိန့် အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု ၊ မီးဘေး အန္တရာယ် စသည်များ၊ မဖြစ်ပေါ်စေရန် အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံကတိ ပြုထားသည့်အတိုင်း စနစ်တကျ ထားရှိ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားရှိမှု အခြေအနေ ကို ဤကော်မရှင် သို့ <u>မပျက်မကွက်</u> အစီရင်ခံရမည်။

၁၀။ ငွေကမ္ဘာကျော် သတ္တုတူးဖော်ရေး ကုမ္ပဏီလီမိတက် (Ngwe Kabar Kyaw Mining Co., Ltd.)သည် ပုဂ္ဂလိက စက်မှု လုပ်ငန်း ဥပဒေ အရ ပြည်နယ်/တိုင်း စက်မှုကြီးကြပ်ရေး နှင့် စစ်ဆေးရေး ဦးစီး ဌာနတွင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင် ထားရှိ ဆောင်ရွက်ရမည်။

၁၁။ ငွေကမ္ဘာကျော် သတ္တုတူးဖော်ရေး ကုမ္ပဏီလီမိတက် (Ngwe Kabar Kyaw Mining Co., Ltd.) သည် ပူးတွဲပါ ကနဦး လုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤ ခွင့်ပြုမိန့် ရရှိပြီး (သုံး)လ အတွင်း ဤကော်မရှင်သို့ <u>မပျက်မကွက်</u> အစီရင်ခံရမည်။ ထို့ပြင် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၆)လ တစ်ကြိမ် ( ဧပြီ / အောက်တိုဘာ လများ) <u>မပျက်မကွက်</u> ပုံမှန်ပေးပို့အစီရင်ခံရမည်။

၁၂။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် နေရပ်ဒေသ လိပ်စာနှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ် ) တို့ ပြောင်းလဲမှု ရှိတိုင်း ဤကော်မရှင်သို့ <u>မပျက်မကွက်</u> တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၃။ ငွေကမ္ဘာကျော် သတ္တုတူးဖော်ရေး ကုမ္ပဏီလီမိတက် (Ngwe Kabar Kyaw Mining Co., Ltd.)သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် နှင့် သက်ဆိုင်ရာဝန်ကြီး ဌာနများမှ ချမှတ်ထားသော တည်ဆဲ စည်းမျဉ်း စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာမှု မရှိကြောင်း စစ်ဆေး တွေ့ရှိပါက ဤခွင့်ပြုမိန့်ကို ပြန်လည် ရုပ်သိမ်းသည်အထိ အရေးယူခြင်းခံရမည်။

၁၄။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ရမည် ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာ က စစ်ဆေးတွေ့ရှိလျှင် လုပ်ငန်း ပိတ်သိမ်းနိုင်ရေး အတွက် သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်းအဆိုပြုသူ သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၅(င) အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည် မဟုတ်သော နာမည်ပျက်စာရင်း၌ ထည့်သွင်းခြင်းခံရမည်။

၁၅။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင် ဆောင်ရွက် ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ်ယူ ရမည်။

(ဗိုလ်မှူးချုပ်အောင်အောင်သိမ်း)

ဥက္ကဋ္ဌ

စာအမှတ်၊ရကဓ- ၆(က) /မ- ၁၀၃၆/၂၀၁၀( ၃၉၆၃ )

ရက်စွဲ၊ ၂၀၁၀ ခုနှစ်၊ မတ် လ ၁၁ ရက်။

မြန့်ဝေခြင်း-

၁။ နိုင်ငံတော် အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ ဥက္ကဋ္ဌရုံး။

၂။ နိုင်ငံတော် အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ ရုံး။

၃။ အစိုးရ အဖွဲ့ရုံး၊

၄။ ရှမ်းပြည်နယ် မြောက်ပိုင်း အေးချမ်း သာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီရုံး၊ လားရှိုးမြို့။

၅။ စာရင်းစစ်ချုပ်ရုံး။

၆။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ။

၇။ အမှတ်(၁)စက်မှုဝန်ကြီးဌာန။

၈။ အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။

၉။ အလုပ်သမား ဝန်ကြီးဌာန။

၁၀။ စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။

၁၁။ ဆက်သွယ်ရေး၊ စာတိုက်နှင့် ကြေးနန်း ဝန်ကြီးဌာန။

၁၂။ သတ္တုတွင်းဝန်ကြီးဌာန။

၁၃။ ဘဏ္ဍာရေးနှင့် အခွန် ဝန်ကြီးဌာန။

၁၄။ အမှတ်(၂) လျှပ်စစ် စွမ်းအား ဝန်ကြီးဌာန။

၁၅။ ပြည်ထဲရေးဝန်ကြီးဌာန။

၁၆။ ဥက္ကဋ္ဌ၊နိုင်ငံခြားမတည်ငွေရင်းတန်ဖိုးသတ်မှတ်ရေးအဖွဲ့။(ပို့ဆောင်ရေး ဝန်ကြီးဌာန)

၁၇။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။

၁၈။ ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန။

၁၉။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။

၂၀။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန။

၂၁။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။

၂၂။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း။

၂၃။ ညွှန်ကြားရေးမှူးချုပ်၊ သတ္တုတွင်း ဦးစီးဌာန။

၂၄။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။

၂၅။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန။

၂၆။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။

၂၇။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။

၂၈။ အုပ်ချုပ်မှုဒါရိုက်တာ၊ ငွေကမ္ဘာကျော် သတ္တုတူးဖော်ရေး ကုမ္ပဏီလီမိတက် (Ngwe Kabar Kyaw Mining Co., Ltd.)